


**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၂ / ၃ - ၁၇ (၂) / စီးပွား
ရက် စွဲ၊ ၂၀၁၂ ခုနှစ်၊ ဒီဇင်ဘာလ ၁၈ ရက်

သို့

သတ္တုတွင်းဝန်ကြီးဌာန
နေပြည်တော်

စွမ်းအင်ဝန်ကြီးဌာန
နေပြည်တော်

အကြောင်းအရာ။ **ဓာတ်ဆီ၊ ဒီဇယ်ဆီ၊ သိုလှောင်ကန်များနှင့်အထောက်အကူပြုအဆောက်အဦများ တည်ဆောက်ခွင့်ပြုပါရန်ကိစ္စ**

၁။ ရန်ကုန်တောင်ပိုင်းခရိုင်၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ်(၁၇/၁၈)(စီ)၊ ဧရိယာ(၂၄. ၇၁)ဧကတွင် ဓာတ်ဆီ၊ ဒီဇယ်ဆီ၊ သိုလှောင်ကန်များနှင့်အထောက်အကူပြုအဆောက်အဦများ တည်ဆောက်ခွင့်ပြုပါရန် သူရိယစွမ်းအင်သိုလှောင်ရေးစီမံခန့်ခွဲမှုကုမ္ပဏီလီမိတက်က တင်ပြခြင်းအပေါ် ရန်ကုန်တိုင်းဒေသကြီးရေနံထွက်ပစ္စည်းများ တင်သွင်းသိုလှောင် သယ်ယူဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းများ ထိန်းသိမ်းကြီးကြပ်ရေးဆပ်ကော်မတီမှ ကွင်းဆင်းစိစစ်ပြီး သတ်မှတ်စံချိန်စံညွှန်း၊ ဒီဇိုင်းပုံစံများအတိုင်း သက်ဆိုင်ရာဝန်ကြီးဌာနများ၏ သတ်မှတ်ထားသော စည်းမျဉ်းစည်းကမ်းများနှင့်အညီဆောင်ရွက်သွားမည် ဆိုပါက ကန့်ကွက်ရန်မရှိကြောင်း ထောက်ခံတင်ပြလာပါသည်။

၂။ သို့ဖြစ်ပါ၍ သူရိယစွမ်းအင်သိုလှောင်ရေးစီမံခန့်ခွဲမှုကုမ္ပဏီလီမိတက်မှ အထက်ဖော်ပြပါနေရာ၌ ဓာတ်ဆီ၊ ဒီဇယ်ဆီ၊ သိုလှောင်ကန်များနှင့်အထောက်အကူပြုအဆောက်အဦများ တည်ဆောက်ခွင့်ပြုပါရန် လျှောက်ထားခြင်းအပေါ် ၁၃-၁၂-၂၀၁၂ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ်(၄၇/၂၀၁၂)၊ ဆုံးဖြတ်ချက် အပိုဒ်(၄၁)အရ ကန့်ကွက်ရန်မရှိကြောင်း ညှိနှိုင်းအကြောင်းကြားအပ်ပါသည်။

၁၈/၁၂/၂၀၁၂

ဝန်ကြီးချုပ် (ကိုယ်စား)
(ကျော်စိုး၊ တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး)

မိတ္တူ

ရန်ကုန်တိုင်းဒေသကြီးသစ်တောနှင့်စွမ်းအင်ဝန်ကြီး
ရန်ကုန်တိုင်းဒေသကြီးမြန်မာ့ရေနံထွက်ပစ္စည်းရောင်းဝယ်ရေးလုပ်ငန်း
ရန်ကုန်တောင်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
ကျောက်တန်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာနအုပ်ချုပ်ရေးမှူးရုံး
သူရိယစွမ်းအင်သိုလှောင်ရေးစီမံခန့်ခွဲမှုကုမ္ပဏီလီမိတက်
[illegible]



ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူးရုံး
ရန်ကုန်တောင်ပိုင်းခရိုင် - သန် လျင် မြို့
စာအမှတ်၊ ၅ / ၂ - ၁ / ဦး ၁
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ ၁၉ ရက်

သို့

တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ရန် လျှောက်ထားလာမှုအား စိစစ်တင်ပြခြင်း**

၁။ ရန်ကုန်တောင်ပိုင်းခရိုင်၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်း၊ မြေကွက်အမှတ် (၁၇၊ ၁၈)(င)တွင် ဦးသူရိန်အောင်(မန်နေးဂျင်းဒါရိုက်တာ၊ သူရိယစွမ်းအင်သိုလှောင်ရေးစီမံခန့်ခွဲမှုကုမ္ပဏီလီမိတက်)မှ ဓါတ်ဆီ၊ ဒီဇယ်ဆီသိုလှောင်ကန်များနှင့် အထောက်အကူပြုအဆောက်အဦများ တည်ဆောက်ခွင့်ပြုပါရန် တင်ပြလာပါသည်။

၂။ အဆိုပါ တင်ပြလာမှုအား စိစစ်ရာတွင်-

(က) လျှောက်ထားမြေနေရာသည် မြန်မာ့ဆိပ်ကမ်းအာဏာပိုင် အမည်ဖြင့် ၂၀၀၀ ပြည့်နှစ်တွင် ရန်ကုန်တိုင်းအေးချမ်းသာယာ ရေးနှင့်ဖွံ့ဖြိုးရေးကောင်စီမှ ၆.၄.၂၀၀၀ပြည့်နှစ်၊ ရက်စွဲပါစာအမှတ်၊ ၂၈၃/၃-၃/တယကဖြင့် လ/န(၃၉) ခွင့်ပြုမိန့်ချထားပေးခဲ့သည့် မြေဧရိယာ ၁၅၀၃.၃၃ ဧကအတွင်း ပါဝင်ကြောင်း တွေ့ရှိရပါသည်။

(ခ) လျှောက်ထားမြေနေရာ (၁၇၊၁၈)(င)အား ပို့ဆောင်ရေးဝန်ကြီးဌာန၊ ဝန်ကြီးရုံး၏ ၂၇.၂.၂၀၁၀ ရက်စွဲပါစာအမှတ်၊ ၅၂-ပဆ/ခွဲ(၁)၂၀၁၀(ည)(၂/၂၇၄)ဖြင့် ဒဂုံအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်အား စက်သုံးဆီတင်/ချ ဆိပ်ခံတံတားလုပ်ငန်းများ ဆောင်ရွက်ရန် ခွင့်ပြုထားကြောင်း တွေ့ရှိရပါသည်။

(ဂ) လျှောက်ထားမြေနေရာ မြေကွက် (၁၇၊၁၈)(င)အား ဒဂုံအင်တာနေရှင်နယ် ကုမ္ပဏီလီမိတက်မှ စက်သုံးဆီတင်/ချ ဆိပ်ခံတံတားလုပ်ငန်းအား သူရိယ စွမ်းအင်သိုလှောင်ရေးစီမံခန့်ခွဲမှုကုမ္ပဏီလီမိတက်(Thuriya Energy Depot Management Co,Ltd)အမည်ဖြင့် ပြောင်းလဲလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါ ရန်နှင့် စာချုပ်ချုပ်ဆိုခွင့်ပြုပါရန် တင်ပြခဲ့ရာပို့ဆောင်ရေးဝန်ကြီးဌာန၊ဝန်ကြီး ရုံး၏ ၁၂.၉.၂၀၁၁ ရက်စွဲပါစာအမှတ်၊ ၅၂-ပဆ/ခွဲ(၁)၂၀၁၀(ည)(၉/၁၀၅) ဖြင့် ခွင့်ပြုထားကြောင်း တွေ့ရှိရပါသည်။

(ဃ) လျှောက်ထားမြေဧရိယာသည် သီလဝါဆိပ်ကမ်းမြေကွက်အမှတ် (၁၇၊၁၈)(င) ဧရိယာ ၂၄.၇၁ ဧကရှိပါသည်။

(င) လျှောက်ထားမြေသည် အရှေ့၊ အနောက်အကျယ် ၇၅၀မီတာ(၂၄၆၀.၇၅)ပေ၊ တောင်၊ မြောက်အကျယ် ၁၃၃.၃၃မီတာ (၄၃၇.၄၅)ပေရှိပြီး အရှေ့ဘက်နှင့် မြောက်ဘက်တွင် ခြံစည်းရိုးအုတ်တံတိုင်း ကာရံထားဆဲဖြစ်ပြီး ကျန်အပိုင်း များတွင် ခြံစည်းရိုးကာရံထားမှုမရှိသော်လည်း နယ်နိမိတ်အငြင်းပွားမှုမရှိပါ။

(စ) လျှောက်ထားမြေ၏ အရှေ့ဘက်တွင် သီလဝါစက်မှုဇုန်လမ်းမကြီး၊ အနောက် ဘက်တွင် ရန်ကုန်မြစ်၊ တောင်ဘက်တွင် ပြည်ထောင်စုကြံ့ခိုင်ရေးနှင့်ဖွံ့ဖြိုးရေး အသင်းနှင့် မြောက်ဘက်တွင် ဧဒင်အုပ်စုကုမ္ပဏီလီမိတက်တို့ တည်ရှိပါသည်။

(ဆ) လျှောက်ထားမြေပေါ်တွင် အောက်ပါအဆောက်အဦများအား ဆောက်လုပ်ဆဲ ဖြစ်ကြောင်း တွေ့ရှိရပါသည်-

(ကက)(၄၇×၉၇)ပေ တစ်ထပ်တိုက်အဆောက်အဦ ပင်မရုံး။ — ၁လုံး

(ခခ) (၂၅×၇၀)ပေ ဒွပ်မိုး၊ ထရံကာ၊ ပျဉ်ခင်း၊ ဂန်ထမ်းလိုင်းခန်း။ — ၁လုံး

(ဈ) လျှောက်ထားမြေပေါ်တွင် အောက်ပါလုပ်ငန်းအထောက်အကူပြု အဆောက်အဦများအား ထပ်မံဆောက်လုပ်သွားရန်ရှိကြောင်း တွေ့ရှိရပါသည်

| | |
|---|---|
| (ကက)ရုံးအဆောက်အဦ | ၁လုံး |
| (ခခ) စက်သုံးဆီဖြန့်ဖြူးရေးအဆောက်အအုံများ | ၁လုံး |
| (ဂဂ) ပြုပြင်ထိန်းသိမ်းရေးအလုပ်ရုံ | ၁လုံး |
| (ဃဃ)ပစ္စည်းသိုလှောင်ရုံ | ၁လုံး |
| (ငင) လျှပ်စစ်ဓါတ်အားခွဲရုံ | ၁လုံး |
| (စစ) ဂန်ထမ်းလိုင်းခန်း | ၃လုံး |
| (ဆဆ)Control & Lab Room | ၁လုံး |
| (ဇဇ) Fire Pump Room နှင့် လုံခြုံရေးအဆောက်အဦ | ၂လုံး |

(ဈ) လျှောက်ထားမြေပေါ်တွင် ဓါတ်ဆီ၊ ဒီဇယ်ဆီနှင့် အနာဂတ်အတွက် LPG သိုလှောင်ကန်များအား အောက်ပါအတိုင်း ဆောက်လုပ်သွားမည်ဖြစ်ကြောင်း စိစစ်တွေ့ရှိရပါသည်-

| | |
|---|---|
| (ကက)ဂါလံ ၁သန်းဆန့် ဒီဇယ်ဆီသိုလှောင်ကန် | ၁လုံး |
| (ခခ) ဂါလံ ၁.၅သန်းဆန့် ဒီဇယ်ဆီသိုလှောင်ကန် | ၂လုံး |
| (ဂဂ) ဂါလံ ၂.၆သန်းဆန့် ဒီဇယ်ဆီသိုလှောင်ကန် | ၂လုံး |
| (ဃဃ)ဂါလံ ၁သန်းဆန့် အောက်တိန်းသိုလှောင်ကန် | ၃လုံး |
| (ငင) ဂါလံ ၁.၅သန်းဆန့် အောက်တိန်းသိုလှောင်ကန် | ၁လုံး |
| (စစ) ဂါလံ ၂.၆သန်းဆန့် အောက်တိန်းသိုလှောင်ကန် | ၁လုံး |

၃။ သို့ဖြစ်ပါ၍ ဦးသူရိန်အောင် (မန်နေးဂျင်းဒါရိုက်တာ၊ သူရိယစွမ်းအင်သိုလှောင်ရေး စီမံခန့်ခွဲမှု ကုမ္ပဏီ လီမိတက်)မှ ဓါတ်ဆီ၊ ဒီဇယ်ဆီ၊ သိုလှောင်ကန်များ ဆောက်လုပ်မည့် မြေကွက် အမှတ် (၁၇၊၁၈)(င) ဧရိယာ ၂၄.၇၁ဧကမှာ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင် မြေဖြစ်ခြင်း၊ ပို့ဆောင်ရေးဝန်ကြီးဌာနမှလည်း အဆိုပါ ကုမ္ပဏီအား စက်သုံးဆီလုပ်ငန်းများ

လုပ်ကိုင်ဆောင်ရွက်ရန် ခွင့်ပြုပေးထားခြင်း၊ စက်သုံးဆီသိုလှောင်ကန် ဆောက်လုပ်မှုအပေါ် ဘေးအန္တရာယ်ကင်းရှင်းရေးအတွက် မီးသတ်ဦးစီးဌာနသို့ ခွင့်ပြုချက်သဘောထားတင်ပြတောင်းခံထားဆဲ ဖြစ်ကြောင်း၊ စိစစ်တွေ့ရှိရပြီး သူရိယစွမ်းအင်သိုလှောင်ရေးစီမံခန့်ခွဲမှုကုမ္ပဏီလီမိတက်မှ သီလဝါဆိပ်ကမ်းဒေသတွင် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်မှုနှင့်ပတ်သက်၍ လုပ်ထုံးလုပ်နည်းနှင့်အညီ ဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်းနှင့် ကွင်းဆင်းစစ်ဆေးတွေ့ရှိချက်အား သိရှိနိုင်ပါရန်နှင့် လိုအပ်သည်များ ညွှန်ကြားမှုပြုနိုင်ပါရန် တင်ပြအပ်ပါသည်။

ပူးတွဲ – (၁၅)ရွက်

ခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူး

မိတ္တူ ကို

သူရိယစွမ်းအင်သိုလှောင်ရေးစီမံခန့်ခွဲမှုကုမ္ပဏီလီမိတက်

မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အုပ်ချုပ်ရေးမှူး၊ ကျောက်တန်းမြို့နယ်

ရုံးလက်ခံ

မျှောစာတွဲ

မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊ အုပ်ချုပ်ရေးမှူး ရုံး
ကျောက်တန်းမြို့
စာအမှတ်၊ ၃ / ၄ - ၄ / ဦး ၆ ( ၁၂၃၇ )
ရက် စွဲ၊ ၂၀၁၂ - ခုနှစ်၊ အောက်တိုဘာလ ၈ ရက်

သို့
သက်ဆိုင်ရာ

အကြောင်းအရာ။ ကျောက်တန်းမြို့နယ် သီလဝါဆိပ်ကမ်း မြေကွက်အမှတ် ၁၇/၁၈ (စီ) တွင် ဆီသိုလှောင်ကန် တည်ဆောက်မည့်ကိစ္စ

ရည် ညွှန်း ချက် ။ ( THURIYA ENERGY DEPOT MANAGEMENT COMPANY LIMTTED ) ၏ (၅.၁၀.၂၀၁၂) ရက်စွဲပါ စာအမှတ်၊ ၀၀၃ / TEDM / ၂၀၁၂

ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်း ဒေသတွင် သူရိယ စွမ်းအင်သိုလှောင်ရေးစီမံခန့်ခွဲမှု ကုမ္ပဏီ လီ မီ တက် ( THURIYA ENERGY DEPOT MANAGEMENT COMPANY LIMTTED ) သည် ပို့ဆောင်ရေးဝန်ကြီးဌာန မြန်မာ့ဆိပ်ကမ်းအာဏာပိုင် သီလဝါဆိပ်ကမ်းဒေသရှိ မြေကွက်အမှတ် (၁၇ / ၁၈ ( စီ ) တွင် ဓါတ်ဆီ၊ ဒီဇယ်ဆီ၊ စက်သုံးဆီ သိုလှောင်ကန် များအား တည်ဆောက်၍ သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ခွင့်ပြုရန် တင်ပြလာသည်အပေါ် ဤမြို့နယ် အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ကွင်းဆင်းစိစစ်ချက် နှင့် တကွ ထောက်ခံအပ်ပါသည်။

စောလွင် ( ပ / ၄၃၇၀ )
ခေတ္တ မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန၊အုပ်ချုပ်ရေးမှူး

မိတ္တူကို
လက်ခံစာတွဲ
လှည့်လည်စာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လူမှုဝန်ထမ်း၊ကယ်ဆယ်ရေးနှင့် ပြန်လည်နေရာချထားရေးဝန်ကြီးဌာန
မီးသတ်ဦးစီးဌာန

စာအမှတ်၊ ၁၀၀ / ၁၀၀ / ၂၈ / ဦး ၁
ရက် စွဲ ၊၂၀၁၂ခုနှစ်၊ အောက်တိုဘာလ ၂၅ ရက်

အကြောင်းအရာ။ **THURIYA ENERGY DEPOT MANAGEMENT Co.,Ltdမှ သီလဝါဆိပ်ကမ်းဒေသတွင် ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်းနှင့်ပတ်သက်၍ အကြံပြုချက်များ ပေးပို့ခြင်း**

ရည် ညွှန်း ချက်။ THURIYA ENERGY DEPOT MANAGEMENT Co.,Ltd ၏ (၈.၁၀.၂၀၁၂) ရက်စွဲပါစာအမှတ်၊ ၀၀၄ / TEDML / ၂၀၁၂

၁။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်မြို့နယ်၊ THURIYA ENERGY DEPOT MANAGEMENT Co.,Ltd သီလဝါဆိပ်ကမ်းဒေသ၊ အကွက်အမှတ်(၁၇/၁၈-စီ)တွင် စက်သုံးဆီ သိုလှောင်ကန်ရုံများ တည်ဆောက်ခြင်းနှင့်ပတ်သက်၍ မီးငြိမ်းသတ်ရေးနှင့် မီးဘေးကြိုတင်ကာကွယ်ရေးဆိုင်ရာ အကြံပြုချက်များကို ပူးတွဲပေးပို့ပါသည်။

၂။ အဆိုပါအကြံပြုချက်များအတိုင်း မီးဘေးကြိုတင်ကာကွယ်ရေးစနစ်များအား လိုက်နာဆောင်ရွက်မည်ဆိုပါက မီးသတ်ဦးစီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

၃။ ဖော်ပြပါ မီးဘေးကြိုတင်ကာကွယ်ရေး စစ်ဆေးထောက်ခံချက်ပေးပြီးနောက် မီးသတ်ဦးစီးဌာနမှ အခါအားလျော်စွာ ပြန်လည်စစ်ဆေးရာ၌ အကြံပြုချက်များအတိုင်း မီးဘေးကြိုတင်ကာကွယ်ရေးစနစ်များအား လိုက်နာဆောင်ရွက်ခြင်းမရှိပါက မီးဘေးကြိုတင်ကာကွယ်ရေး စစ်ဆေးထောက်ခံချက်ကို ပြန်လည်ရုပ်သိမ်းပါမည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(ဦးသင်းဌေးရွှေ၊ ညွှန်ကြားရေးမှူး)

U THURANE AUNG
MANAGING DIRECTOR
THURIYA ENERGY DEPOT MANAGEMENT Co.,Ltd

မိတ္တူ

ညွှန်ကြားရေးမှူးချုပ်၊ သတ္တုတွင်းဦးစီးဌာန၊ နေပြည်တော်၊
အမှတ်(၂)ပြည်နယ်/တိုင်းဒေသကြီးမီးသတ်ဦးစီးရုံးများကွပ်ကဲမှုဌာနခွဲ၊
ရန်ကုန်တိုင်းဒေသကြီးမီးသတ်ဦးစီးဌာနမှူးရုံး၊
သီးသန့်စာတွဲ၊
မျှောစာတွဲ၊
လက်ခံစာတွဲ။



**THURIYA ENERGY DEPOT MANAGEMENT COMPANY LIMITED.**

N0. 262-264, Pyay Road, Dagon Centre, #A05-03, Myaynigone, Sanchaung Township, Yangon.
Tel : 95-1-514226, 514227, 503516 ~ 9 Fax : 95-1-516616, 504528

စာအမှတ် ။ ။ ၀၀၄/ TEDML/2013

နေ့စွဲ ။ ။ ၂၀၁၃ ခုနှစ် မတ်လ( ၂၂ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး

အကြောင်းအရာ။ ။သတ္တုတွင်းဝန်ကြီးဌာန၏ညွှန်ကြားချက်အတိုင်းလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုခြင်း။

ရည်ညွှန်းချက် ။ ။(၁)ပို့ဆောင်ရေးဝန်ကြီးဌာန/ဝန်ကြီးရုံး၏ (၁၈.၁.၂၀၁၃) ရက်စွဲပါ စာအမှတ်၊ ၅၂-ပဆ/ခွဲ(၁) ၂၀၁၃ (၁/၃၂၁)တင်ပြစာ၊

(၂)မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃.၂.၂၀၁၃)ရက်စွဲပါ စာအမှတ်၊ ရက-၆(က)/မ-၁၃၀၃/၂၀၁၃ (၂၄၂၀-တ)၊

၁။ Thuriya Energy Depot Management Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်အတွင်းရှိသီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၁၇၊၁၈ (ဗီ) မြေဧရိယာ (အလျား ၁၃၃.၃၃မီတာနှင့် အကျယ်၇၅၀မီတာ) ကိုပို့ဆောင်ရေး ဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံမှ BOT စနစ်ဖြင့် ငှားရမ်း၍စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအားသိုလှောင်သည့်လုပ်ငန်းကိုဆောင်ရွက်ရန်အတွက် မြန်မာ့ရင်းနှီးမှုကော်မရှင်သို့ ပို့ဆောင် ရေး ဝန်ကြီးဌာနမှ ရည်ညွှန်းချက်(၁) ပါစာဖြင့် အဆိုပြုချက်တင်ပြခဲ့ပါသည်။

၂။ အဆိုပြု တင်ပြချက်နှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှရည်ညွှန်းချက်(၂) ပါစာဖြင့် သတ္တုတွင်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီပြင်ဆင်တင်ပြရန် အကြောင်းကြားလာပါသည်။

၃။ သို့ဖြစ်ရာ Thuriya Energy Depot Management Co.,Ltd အနေဖြင့် သတ္တုတွင်း ဝန်ကြီး ဌာန၏ သဘောထားမှတ် ချက် ပါ " Thuriya Energy Depot Management Co.,Ltd မှစက်သုံးဆီ မြေပေါ်သိုလှောင်ကန် (၁၀)လုံးတည် ဆောက် သွားမည်ဖြစ်ရာ မြေပေါ်သိုလှောင်ခွင့် " L "လိုင်စင်ပါကန့်သတ်ချက် များအရ ငါး(၁)သိန်းအထက်သိုလှောင်ကန်များ ဖြစ်သည့်အတွက် သိုလှောင်ကန်တစ်ကန် နှင့်တစ်ကန်ကြားတွင် ဘေးကင်းမှုအကွာအဝေး (၁၀၀)ပေခွာ၍တည်ဆောက်ရန်နှင့်ပေ(၁၀၀)ထက်နီးကပ်စွာတည်ဆောက်မည်ဆိုပါကသိုလှောင်ကန်ကြားတွင်မီးတားနံရံ (Fire Screen Wall) အားပို၍ အမြင့်ရှိသည့် သိုလှောင်ကန်၏အမြင့်အတိုင်းထားပေးရန်လိုအပ်ကြောင်း။ "ညွှန်ကြားချက်အတိုင်း လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်းဝန်ခံက တိပြု တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

THURANB AUNG
MANAGING DIRECTOR
THURIYA ENERGY DEPOT MANAGEMENT CO.,LTD.

မိတ္တူကို-
-ရုံးလက်ခံ
-မျှော



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
သတ္တုတွင်းဝန်ကြီးဌာန
ဝန်ကြီးရုံး
နေပြည်တော်

စာအမှတ်၊ ၅၇ - ခွဲ(၃) ၁၂ ( ၈၈၅၇ )
ရက်စွဲ၊ ၂၀၁၂ခုနှစ် နိုဝင်ဘာလ ၆ ရက်

သို့

အုပ်ချုပ်မှုဒါရိုက်တာ
Thuriya Energy Depot Management Co.,Ltd;

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပေးပို့ခြင်း**

ရည်ညွှန်းချက် ။ Thuriya Energy Depot Management Company Limited ၏ ၂၆.၁၀.၂၀၁၂ ရက်စွဲပါ စာအမှတ်၊ ၀၁၁/TEDML/၂၀၁၂

၁။ ရည်ညွှန်းစာပါ အကြောင်းအရာကိစ္စ တင်ပြခြင်းနှင့်ပတ်သက်၍ စက်သုံးဆီမြေပေါ် သိုလှောင်ကန် (၁၀)လုံး တည်ဆောက်မည်ဆိုပါက မြေပေါ်သိုလှောင်ခွင့် "L" လိုင်စင်ပါ ကန့်သတ်ချက်များအရ ဂါလန်(၁)သိန်းအထက် သိုလှောင်ကန်များ ဖြစ်သည့်အတွက် သိုလှောင်ကန် တစ်ကန်နှင့်တစ်ကန် အကြားတွင် ဘေးကင်းမှု အကွာအဝေး (၁၀၀)ပေခွာ၍ တည်ဆောက်ရန်နှင့် ပေ(၁၀၀)ထက် နီးကပ်စွာ တည်ဆောက်မည်ဆိုပါက သိုလှောင်ကန် နှစ်ကန်ကြားတွင် မီးတားနံရံ (Fire Screen Wall) အား ပို၍အမြင့်ရှိသည့် သိုလှောင်ကန်၏ အမြင့်အတိုင်း ကာရံပေးရမည် ဖြစ်ပါသည်။

၂။ သို့ပါ၍ Thuriya Energy Depot Management Company Limited ၏ စက်သုံးဆီမြေပေါ် သိုလှောင်ကန် (၁၀)လုံး တည်ဆောက်ရာတွင် မြေပေါ်သိုလှောင်ခွင့်လိုင်စင် "L" လိုင်စင်ပါ ကန့်သတ်ချက်များအတိုင်း တည်ဆောက်မည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိကြောင်း ပြန်ကြားအပ်ပါသည်။

8/11/12

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
**သတ္တုတွင်းဝန်ကြီးဌာန**
( မင်းမင်းဦး၊ ရုံးအဖွဲ့မှူး )

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
သတ္တုတွင်းဦးစီးဌာန



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စွမ်းအင်ဝန်ကြီးဌာန

စာအမှတ်၊ ညမ / MIC / ၈(၂၅၉)
ရက်စွဲ၊ ၂၀၁၂ ခုနှစ်၊ နိုဝင်ဘာလ ၂ ရက်

သို့

Thuriya Energy Depot Management Co., Ltd

အကြောင်းအရာ။ သီလဝါဆိပ်ကမ်းဒေသတွင် ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်းအတွက်MIC သို့ တင်ပြရန် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ Thuriya Energy Depot Management Co., Ltd ၏ ၂၆-၁၀-၂၀၁၂ ရက်စွဲပါစာအမှတ်၊ ၀၁၂ / TEDML / ၂၀၁၂

၁။ သီလဝါဆိပ်ကမ်းဒေသတွင် ဆီသိုလှောင်ကန်များ တည်ဆောက်ခြင်းလုပ်ငန်းအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) သို့ တင်ပြရန် Thuriya Energy Depot Management Co.,Ltd မှ ရည်ညွှန်းချက်ပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စနှင့်စပ်လျဉ်း၍ Thuriya Energy Depot Management Co., Ltd မှ ဆောက်လုပ်မည့် ဒီဇယ်ဆီသိုလှောင်ကန် ဂါလံ(၁)သန်းဆံ့ (၁)လုံး၊ ဂါလံ(၁.၅)သန်းဆံ့ (၂)လုံး၊ ဂါလံ(၂.၆)သန်းဆံ့ (၂)လုံး၊ အောက်တိန်းဆီသိုလှောင်ကန် ဂါလံ(၁)သန်းဆံ့ (၃)လုံး၊ ဂါလံ(၁.၅)သန်းဆံ့ (၁)လုံး၊ ဂါလံ(၂.၆) သန်းဆံ့ (၁)လုံး၊ စုစုပေါင်း ဆီသိုလှောင်ကန်(၁၀)လုံး တည်ဆောက်ရန်အတွက် ကန့်ကွက်ရန်မရှိကြောင်း အကြောင်းကြားပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(ဖေဖင်ထွန်း၊ ညွှန်ကြားရေးမှူးချုပ်)

မိတ္တူကို
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC (31-10-2012).docx



**THURIYA ENERGY DEPOT MANAGEMENT COMPANY LIMITED.**

N0. 262-264, Pyay Road, Dagon Centre, #A05-03, Myaynigone, Sanchaung Township, Yangon.
Tel : 95-1-514226, 514227, 503516 ~ 9 Fax : 95-1-516616, 504528

---

စာအမှတ်॥ ။005/ TEDML/ 2013
နေ့စွဲ ။ ။၂၀၁၃ခုနှစ် မတ်လ (၂၂) ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး

အကြောင်းအရာ။ ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေး နှင့်သစ်တောရေးရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်နှင့်အညီတင်ပြရန်ကိစ္စ၊

ရည်ညွှန်းချက် ။ ။(၁) ပို့ဆောင်ရေးဝန်ကြီးဌာန ၊ ဝန်ကြီးရုံး၏ (၁၈.၁.၂၀၁၃)ရက်စွဲပါ စာအမှတ် ၊
၅၂- ပဆ/ခွဲ (၁) ၂၀၁၃ (၁/၃၂၁)
(၂)မြန်မာ့ရင်းနှီးမြှုပ်နှံမှု ကော်မရှင်ရုံး၏ (၄.၃.၂၀၁၃)ရက်စွဲပါ စာအမှတ် ၊
ရက-၆(က)/မ-၁၃၀၃/၂၀၁၃ (၂၈၉၃)

၁။ ကျွန်တော်များ:Thuriya Energy Depot Management Co.,Ltd သည် ရန်ကုန်တိုင်းဒေသကြီး၊ကျောက်တန်းမြို့နယ် အတွင်းရှိသီလဝါဆိပ်ကမ်းဒေသ၊ မြေကွက်အမှတ် ၁၇၊၁၈ (စီ)မြေဧရိယာ( အလျား ၁၃၃.၃၃မီတာနှင့် အကျယ်၇၅၀မီတာ) ကို ပို့ဆောင်ရေး ဝန်ကြီးဌာန ၊မြန်မာ့ဆိပ်ကမ်း အာဏာပိုင်ထံမှ BOT စနစ် ဖြင့် ငှားရမ်း၍ စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများသိုလှောင်သည့်လုပ်ငန်းကို မြန်မာနိုင်ငံသား များ ရင်းနှီး မြှုပ်နှံမှုနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ပို့ဆောင်ရေးဝန်ကြီးဌာန၏ ရည်ညွှန်းချက်(၁ ) ပါစာဖြင့် လျှောက် ထားခဲ့ပါ သည်။

၂။ အဆိုပြု တင်ပြချက်နှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှရည်ညွှန်းချက်(၂) ပါစာဖြင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန ၏သဘောထားမှတ်ချက်နှင့် အညီပြင်ဆင်တင်ပြရန် အကြောင်းကြားလာပါသည်။

၃။ သို့ဖြစ်ရာ Thuriya Energy Depot Management Co.,Ltd အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ရည်ညွှန်းချက်(၂)ပါ စာ၏ အပိုဒ်(၂) ပါပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေး ရာဝန်ကြီး ဌာနမှညွှန်ကြားချက်များအားလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၄။ ထို့အပြင် ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အရ အဆိုပြုစီမံကိန်း၏ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း ( Environmental Impact Assessment- EIA)လုပ်ငန်းမှာမိမိ တို့ကုမ္ပဏီမှ National Engineering and Planning Services Co., Ltd (NEPS) သို့ လုပ်ငန်းအပ်နှံဆောင်ရွက်လျက်ရှိပြီးငင်း အဖွဲ့မှ EIA စစ်ဆေးမှုများပြီးစီးပါက EIA Report နှင့်အတူ ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan- EMP) အားဆက်လက်တင်ပြသွားမည်ဖြစ်ပါသည်။

၅။ မိမိတို့ကုမ္ပဏီအနေဖြင့်နိုင်ငံတော်မှပြဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာမူဝါဒ ၊ ပတ်ဝန်းကျင်ထိန်းသိမ်း ရေးဥပဒေ၊ သက်ဆိုင်ရာသစ်တောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းအား လိုက်နာကျင့်သုံးအကောင်အ ထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ပြီး EMP အစီအစဉ်အတိုင်းလည်း အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြအစီရင် ခံအပ်ပါသည်။

လေးစားစွာဖြင့်

THURANE AUNG
MANAGING DIRECTOR
THURIYA ENERGY DEPOT MANAGEMENT CO.,LTD.

မိတ္တူကို
-ရုံးလက်ခံ
-မျှော




# THURIYA ENERGY DEPOT MANAGEMENT COMPANY LIMITED.

N0. 262-264, Pyay Road, Dagon Centre, #A05-03, Myaynigone, Sanchaung Township, Yangon.
Tel : 95-1-514226, 514227, 503516 ~ 9 Fax : 95-1-516616, 504528


---

စာအမှတ်။ 014 / TEDML/ 2012
ရက်စွဲ။ ၂၀၁၂ ခုနှစ်၊ အောက်တိုဘာလ( )ရက်

သို့

ဦးဆောင်ညွှန်ကြားရေးမှူး
မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
ပို့ဆောင်ရေးဝန်ကြီးဌာန

အကြောင်းအရာ။ <u>။သီလဝါဆိပ်ကမ်းဒေသတွင် စက်သုံးဆီသိုလှောင်ကန် တည်ဆောက်ပြီး ဝန်ဆောင်မှုလုပ်ငန်းများဆောင်ရွက်ရန် MIC သို့ ခွင့်ပြုမိန့် လျှောက်ထားရာ၌ EIA & SIA စစ်ဆေးတောက်ခံချက်များ ပူးတွဲတင်ပြရေးကိစ္စ။</u>

၁။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသတွင် စက်သုံးဆီသိုလှောင်ကန်များတည်ဆောက်ပြီး၊ ဝန်ဆောင်မှုလုပ်ငန်းများကို BOT စနစ်ဖြင့် လုပ်ကိုင်ရန် ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်ရရှိနိုင်ရေးအတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာများ တင်ပြရာတွင် EIA & SIA စစ်ဆေးတောက်ခံချက်များနှင့်တကွ ပူးတွဲတင်ပြရမည်ဖြစ်ကြောင်း ညွှန်ကြားထားရှိပြီး ဖြစ်ပါသည်။

၂။ သန်လျင်ကျောက်တန်းနယ်မြေ၊ သီလဝါဆိပ်ကမ်းဒေသတွင် စက်သုံးဆီတင်/ချဆိပ်ခံတံတားတည်ဆောက်လုပ်ကိုင်ခွင့်ရရှိသော ကုမ္ပဏီများအား မြန်မာနိုင်ငံစက်သုံးဆီ တင်သွင်းရောင်းချဖြန့်ဖြူးရေးအသင်း (MPTA)မှ ဦးစီး၍ National Engineering & Planning Services Co., Ltd, Myanmar အဖွဲ့နှင့် Norconsult, Norway အဖွဲ့ထံမှ EIA & SIA စစ်ဆေးတောက်ခံချက်များ ရရှိနိုင်ရေးအတွက် ဆောင်ရွက်ပေးမည်ဖြစ်ပါ၍ Thuriya Energy Depot Management Co., Ltd. အနေဖြင့် အခြားကုမ္ပဏီများနှင့် ပူးပေါင်းပါဝင်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း(၁၇. ၁၀. ၁၂)ရက်နေ့တွင် MPTA သို့ အကြောင်းကြားထားရှိပြီး ဖြစ်ပါသည်။

၃။ သို့ဖြစ်ပါ၍ National Engineering & Planning Services Co., Ltd, Myanmar အဖွဲ့နှင့် Norconsult, Norway အဖွဲ့မှ ပြုစုပေးပို့မည့် EIA & SIA စစ်ဆေးတောက်ခံချက်များအား ဆက်လက်တင်ပြသွားမည်ဖြစ်ပါကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

THURANE AUNG
MANAGING DIRECTOR
THURIYA ENERGY DEPOT MANAGEMENT CO.,LTD.



**THURIYA ENERGY DEPOT MANAGEMENT COMPANY LIMITED.**
N0. 262-264, Pyay Road, Dagon Centre, #A05-03, Myaynigone, Sanchaung Township, Yangon.
Tel : 95-1-514226, 514227, 503516 ~ 9 Fax : 95-1-516616, 504528




## ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားမှုအခြေအနေတင်ပြခြင်း

"သူရိယစွမ်းအင် သိုလှောင်ရေး စီမံ ခန့်ခွဲမှု ကုမ္ပဏီလီမိတက်" **(Thuriya Energy Depot Management Co., Ltd.)** အနေဖြင့် **BOT**စနစ်ဖြင့် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအားသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း လုပ်ငန်းကို ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် အဆောက်အဦးများအတွင်း သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ အဆောက်အဦး ပတ်ဝန်းကျင်အား သန့်ရှင်းရေးလုပ်ငန်းများဆောင်ရွက်ခြင်း၊ ရေနုတ်မြောင်းများမှ အနံ့အသက်များမရှိအောင် ရေနုတ်မြောင်းများကို ရေစီးရေလာကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

ကျွန်တော်တို့၏ အဆောက်အဦးများနှင့် ရုံးများပတ်ဝန်းကျင်တွင် ဆူညံမှုဖြစ်ပေါ်မည် မဟုတ်ပဲ ပတ်ဝန်းကျင်ညစ်ညမ်းမှုကိုလည်း ဖြစ်ပေါ်မည်မဟုတ်ကြောင်းနှင့်အဆောက်အဦးများနှင့် ရုံးများအတွင်းမှ ထွက်ရှိလာသော အမှိုက်များကိုလည်း စနစ်တကျစွန့်ပစ်မည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။ ရန်ကုန်မြို့တော်စည်ပင် သာယာရေးကော်မတီကချမှတ်ထားသော စည်းမျဉ်း၊ စည်းကမ်းများကို လိုက်နာဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

**THURANB AUNG**
MANAGING DIRECTOR
THURIYA ENERGY DEPOT MANAGEMENT CO.,LTD.

## လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားများသက်သာချောင်ချိရေး အစီအစဉ်

"သူရိယစွမ်းအင် သိုလှောင်ရေး စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်" (Thuriya Energy Depot Management Co., Ltd.)သည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်အတွင်းရှိ သီလဝါဆိပ်ကမ်းဒေသ၊ အမှတ်-၁၇/၁၈(စီ)တွင် BOT စနစ်ဖြင့် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင် သည့် ဝန်ဆောင်မှုလုပ်ငန်းကို တည်ထောင်ဆောင်ရွက်မည်ဖြစ်ရာ လုပ်ငန်းခွင်သာယာရေးနှင့် လုပ်သားသက်သာချောင်ချိရေး အစီအစဉ်ကို အောက်ပါအတိုင်း စီစဉ်ထားပါသည်။

၁။ လုပ်သားများအတွက် ဝန်ထမ်းအိမ်ယာများကို လိုအပ်သလို တည်ဆောက်ပေးထားမည်ဖြစ်ပြီး၊ အကြို/ အပို့ မော်တော်ယဉ်များလည်းစီစဉ်ပေးထားမည်ဖြစ်ပါသည်။

၂။ အလုပ်သမားများ ဗဟုသုတတိုးပွားစေရန် စာကြည့်တိုက်တစ်ခုဖွင့်လှစ်ပေးပါမည်။

၃။ ကျန်းမာရေးစောင့်ရှောက်မှုနှင့် ပဏာမကုသမှု လုပ်ငန်းဆောင်ရွက်နိုင်ရန်ကျန်းမာရေးဆေးခန်းကိုလည်း စီစဉ်ထားပါမည်။

၄။ ပတ်ဝန်းကျင်စိမ်းလန်းသာယာရေးအတွက် ပန်းခြံများ၊ သစ်ပင်များစိုက်ပျိုး၍ ပတ်ဝန်းကျင်သာယာမှုရှိစေရန် ဆောင်ရွက်ပေးပါမည်။

၅။ အလုပ်သမား ထမင်းစားဆောင်ကိုလည်း တည်ဆောက်ပြီး ထမင်းစားခုံ၊ ကုလားထိုင်၊ ဆပ်ပြာ၊ သန့်ရှင်းရေးသုံးပစ္စည်းများ ဖြည့်ဆည်းပေးပါမည်။

၆။ ရေချိုးခန်းနှင့် အိမ်သာကို အမျိုးသား၊ အမျိုးသမီးခွဲခြားလျှက် အလုံအလောက် တည်ဆောက်ထားရှိမည်ဖြစ်ပါသည်။

၇။ ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် သန့်စင်ခန်းများ၊ အမှိုက်ပုံးများထားရှိခြင်း၊ စက်ရုံဝန်းကျင်သန့်ရှင်းမှုရှိစေရန် လုပ်ငန်းဆောင်ရွက်ပေးခြင်း၊ ရေနုတ်မြောင်းများကို တည်ဆောက်၍ သန့်ရှင်းစင်ကြယ်မှုရှိစေရန် အစဉ်ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၈။ ပတ်ဝန်းကျင် ဆူညံခြင်းမရှိစေရန်နှင့် အလင်းရောင်၊ လေဝင်လေထွက် ကောင်းစေရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

၉။ လုံခြုံရေးဂိတ်များထားရှိပြီး၊ စက်ရုံလုံခြုံရေး၊ ဝန်ထမ်းလုံခြုံရေး၊ မီးဘေးလုံခြုံရေးများ စီစဉ်ထားရှိပါမည်။ အလုပ်သမားများကို ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်စေပြီး၊ တည်ဆဲဥပဒေများကို လိုက်နာစေရန် စီစဉ်ဆောင်ရွက်ထားမည်ဖြစ်ပါသည်။




**THURIYA ENERGY DEPOT MANAGEMENT COMPANY LIMITED.**

N0. 262-264, Pyay Road, Dagon Centre, #A05-03, Myaynigone, Sanchaung Township, Yangon.
Tel : 95-1-514226, 514227, 503516 ~ 9 Fax : 95-1-516616, 504528





## မီးဘေးကြိုတင်ကာကွယ်မှု အထောက်အထားတင်ပြခြင်း

"သူရိယစွမ်းအင် သိုလှောင်ရေး စီမံခန့်ခွဲမှု ကုမ္ပဏီလီမိတက်" **(Thuriya Energy Depot Management Co., Ltd.)** အနေဖြင့် **BOT** စနစ်ဖြင့် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအား သိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်းကို လုပ်ကိုင်ရန် အတွက် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီး မြှုပ်နှံမှုဥပဒေနှင့်အညီ ခွင့်ပြုမိန့်**(Permit)** လျှောက်ထားခြင်းဖြစ်ပါ သည်။

"သူရိယစွမ်းအင် သိုလှောင်ရေး စီမံ ခန့်ခွဲမှု ကုမ္ပဏီလီမိတက်" **(Thuriya Energy Depot Management Co., Ltd.)** အနေဖြင့် **BOT** စနစ်ဖြင့် စက်သုံးဆီသိုလှောင်ကန်များ တည်ဆောက်ကာ စက်သုံးဆီများအားသိုလှောင်သည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်မှုအနေဖြင့် ရေဂါလံ(၆၀,၀၀၀)ဆန့် မီးသတ်ရေလှောင်ကန်(၂)လုံး၊ မီးသတ်ပန့်များ၊ မီးသတ်ဘူးများ၊ အမြှုပ်ဖြင့်မီးသတ်စနစ်များ၊ မီးသတ်ကားများ၊ ခေတ်မီမီးငြိမ်းသတ်စနစ်များ၊ အချက်ပေး အစီအမံများကိုဆောင်ရွက် ထားရှိမည်ဖြစ်ပါသည်။ အဆောက်အအုံများကိုလည်းမီးလောင်မှုမှ ကာကွယ်ရန် သံကူကွန်ကရစ် **RC** သံထည်ပစ္စည်းများဖြင့် တည်ဆောက်ထားပြီး ရေပုံး၊ မီးကပ်၊ သဲအိတ်များကိုလည်း အဆင်သင့်ထားရှိမည်ဖြစ်ပါသည်။ အဆောက်အဦး၏ နံရံများတွင် မီးသတ်ဘူးများကို အဆင်သင့်ထားရှိမည်ဖြစ်ပါသည်။ ထို့အပြင် အဆောက်အဦးတွင် မီးဘေးအန္တရယ်အတွက် စည်းကမ်းချက်များချမှတ်ထားပြီး၊ ယင်းတို့ကို ဝန်ထမ်းများကတိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း အစီအမံထားရှိပါသည်။ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများလေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါသည်။ လုပ်ငန်းခွင်အတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကျပ် စွာတားမြစ်ထားရှိခြင်းနှင့် လျှပ်စစ်နှင့်ပတ်သက်သည့် အန္တရာယ်များမဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထား ရှိမည်ဖြစ်ပါသည်။ မီးသတ်ဦးစီးဌာနနှင့် ရန်ကုန်မြို့တော်လျှပ်စစ်ဓာတ်အား ဖြန့်ဖြူးရေးအဖွဲ့တို့၏ သတ်မှတ်ထားသော စည်းမျဉ်း၊ စည်းကမ်းများကို လိုက်နာဆောင်ရွက် သွားမည်ဖြစ်ပါကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

THURANE AUNG
MANAGING DIRECTOR
THURIYA ENERGY DEPOT MANAGEMENT CO.,LTD

## မီးဘေးကြိုတင်ကာကွယ်ရေးအတွက်ဆောင်ရွက်ထားရှိရမည့် အချက်များ

၁။ စက်သုံးဆီသိုလှောင်ကန်များတည်ဆောက်ရာတွင် အသုံးပြုသည့်ပစ္စည်းများသည် မီးဘေးအန္တရာယ်ကို ကာကွယ်နိုင်သည့်ပစ္စည်းများ၊ ပေါက်ကွဲမှုမဖြစ်ပွားစေနိုင်သော လုံခြုံစိတ်ချရသော ပစ္စည်းကိရိယာများအား သုံးစွဲရမည်။

၂။ အသုံးပြုမည့် လျှပ်စစ်ပိုင်းဆိုင်ရာ ပစ္စည်းကိရိယာများအား ပေါက်ကွဲမှုမဖြစ်သည့် အမျိုးအစားများဖြင့် လည်းကောင်း၊ လျှပ်စစ်မီးကြိုး(Control Cable)များအား မီးလောင်မလွယ်သည့် (Copper Core Poly Ethylene Sheltered Control Cable )များ၊ မီးဒဏ်ခံဝါယာကြိုးများ(Fire Rated Cable)ဖြင့်လည်းကောင်း၊ အလွယ်တကူ မီးမကူးစက်နိုင်သည့် (Fluoro Plastic Multi Core Inflaming Retackling Control Cable )များဖြင့်လည်းကောင်း အသုံးပြုရမည်။

၃။ သိုလှောင်ကန်တိုင်းတွင် မိုးကြိုးလွှဲများ တပ်ဆင်သွားရမည်။

၄။ သိုလှောင်ကန်တစ်ခုနှင့်တစ်ခုအကွာအဝေးသည် အနည်းဆုံး(၁၅)မီတာရှိစေရမည်။

၅။ ဆီသိုလှောင်ကန် ပတ်ဝန်းကျင်တွင် တားမြစ်နယ်မြေသတ်မှတ်၍ မီးသတိပေးဆိုင်းဘုတ်များ တပ်ဆင် ထားရမည်။

၆။ စက်သုံးဆီသိုလှောင်ကန်များအနီး မြက်ပင်များ၊ ကိုင်းပင်များ၊ အမှိုက်သရိုက်များနှင့် လောင်စာများကို ရှင်းလင်းရမည်။

၇။ သိုလှောင်ကန်အနီး၊ အနီးဆုံးရေရယူနိုင်သည့် နေရာများတွင် အုတ်ရေလှောင်ကန်များတည်ဆောက်ထားရန် အလွယ်တကူရေ ရယူဖြည့်တင်းနိုင်ရေးအတွက် ရေစုပ်စက်များ၊ မီးသတ်ရေပိုက်လိပ်များထားရှိရန်နှင့် မီးသတ်ရေပိုက်လိပ်များကို ရေဖိအားခံနိုင်သော အမျိုးအစားများဖြင့် ဝယ်ယူဖြည့်တင်း ထားရှိရမည်။

၈။ မီးစွဲတောက်လောင်နိုင်သည့် လောင်စာဆီများယိုစိမ့်မှု(သို့)ယိုဖိတ်မှု မဖြစ်ပေါ်စေရန် အထူးဂရုပြုဆောင်ရွက်ရမည်။ ယိုစိမ့်မှုနှင့်ယိုဖိတ်မှုရှင်းလင်းသန့်စင်ရေးလုပ်ငန်းများကိုရေးဆွဲထားရှိသည့် အရေးပေါ်စီမံချက်များအတိုင်း ချက်ချင်းဆောင်ရွက်ရမည်။ ယိုစိမ့်(သို့)ယိုဖိတ်သည့် အညစ်အကြေးများအား စနစ်တကျ စုဆောင်းကာ စွန့်ပစ်သန့်စင်ရမည်။

**အတားအဆီးနံရံများ။** အောက်ပါအတိုင်းတည်ဆောက်ထားရမည်-

၉။ (က) သိုလှောင်ကန်နှင့် (Dike)အကြား (Safety Vacant Space)တွင် $1cm^3$ အရွယ် Chipping ကျောက် (၉)လက်မအထူ ခင်းထားရန်(သို့မဟုတ်) ကွန်ကရစ်အပြည့် ခင်းထားရမည်။

(ခ) မီးသတ်ဦးစီးဌာန၏ခွင့်ပြုချက်မရှိဘဲ သိုလှောင်ကန်ဘက်ရှိ Bund ၏ အတွင်းနံရံအမြင့်သည် (2-m)ထက် မပိုစေရန် ဆောင်ရွက်ထားရှိရမည်။

(ဂ) မော်တော်ယာဉ် ချဉ်းကပ်လမ်းဘက်ရှိ Bund ၏အပြင်နံရံအမြင့်သည် (2.5-m) ထက် မပိုစေရန် ဆောင်ရွက်ထားရှိရမည်။

(ဃ) သိုလှောင်ကန်အပေါ်ထိပ်ဝနှင့် (Dike)အကြား အကွာအဝေးသည် အများဆုံး(7-m)ထက် မပိုစေရန် ဆောင်ရွက်ထားရှိရမည်။

## သိုလှောင်ကန်နှင့် Bund အကြားရှိရမည့် အကွာအဝေး

1m (MIN)
7m (MAX)
2
1
VERTICAL
Tank
BUND WALL
2.5m MAX.
2m
(a)

၁၀။ **မီးကာနံရံများ။** မီးကာနံရံများအားအောက်ပါအတိုင်းတည်ဆောက်ရမည်-

(က) မီးဒဏ်ခံအားအနည်းဆုံး(၄)နာရီခံနိုင်ရမည်။

(ခ) မီးဒဏ်ခံတံခါးမှလွဲ၍ မီးကာနံရံမှအရည်များစိမ့်ဝင်ပျံ့နှံ့ခြင်းမရှိရန် ဆောက်လုပ်ထားရမည်။

(ဂ) မီးကာနံရံ၏ အောက်ခြေအား အခိုင်အမာတည်ဆောက်ထားရမည်ဖြစ်ပြီး၊ အခြားမည်သည့်အစိတ်အပိုင်းများနှင့် ချိတ်ဆက်ထားခြင်းမရှိဘဲ သီးခြားရပ်တည်နိုင်အောင် ဆောက်လုပ်ထားရမည်။

(ဃ) မီးလောင်မှုဖြစ်ပွားပါက ဘေးပတ်ဝန်းကျင်သို့ အပူဖြာကူးခြင်းမှ ကာကွယ်နိုင်ရန် လုံလောက်သည့် အမြင့်ရှိရမည်။

(င) မီးကာနံရံအား မီးသတ်ဦးစီးဌာန၏ခွင့်ပြုချက်အကွာအဝေးတိုင်း တည်ဆောက် ထားရမည်။

မှတ်ချက်။ (200-mm)ရှိအုတ်၊အင်္ဂတေဖြင့် ပြုလုပ်ထားသောနံရံ(သို့မဟုတ်) (150-mm)ရှိ သံကူကွန်ကရစ်ဖြင့် ပြုလုပ်ထားသော နံရံအား မီးဒဏ်(၄)နာရီ ခံနိုင်သည်ဟု သတ်မှတ်သည်။

၁၁။ မော်တော်ယာဉ်ချဉ်းကပ်လမ်းများ-

(က) ချဉ်းကပ်လမ်းများသည်အနည်းဆုံး(၄)မီတာအကျယ်ထားရှိရမည်။

(ခ) လမ်းဘေးကားရပ်နားသည့်နေရာများသည်အနည်းဆုံး(၃.၅)မီတာကျယ်ပြီး (၁၅)မီတာအရှည်ရှိရမည်။

(ဂ) အန္တရာယ်ရှိသည့်နေရာများသို့ ဝင်ရောက်ရန် တာဝန်ရှိသူများ၏ ခွင့်ပြုချက်မရရှိပါက မော်တော်ယာဉ်များသည် သတ်မှတ်ထားသည့် ဘေးကင်းလုံခြုံသည့်နေရာများထိသာ ဝင်ရောက်အသုံးပြုရေးကန့်သတ် ထားရမည်။

(ဃ) လမ်းပေါ်တွင်မောင်းနှင်အသုံးပြုရန် သင့်တော်သည့်ယာဉ်များသာ တားမြစ်ဧရိယာအတွင်း မောင်းနှင်သွားလာရန်ခွင့်ပြုရမည်ဖြစ်ပြီး ယာဉ်မောင်းများသည်လည်း မော်တော်ယာဉ်များအား ကျွမ်းကျင်စွာကိုင်တွယ် အသုံးပြုမောင်းနှင်နိုင်ရမည်။

(င) သတ်မှတ်ဧရိယာအတွင်း သင့်တော်သည့် သတ်မှတ်မိုင်နှုန်းအတိုင်းသာ မောင်းနှင်စေရမည်ဖြစ်ပြီး သတိပေးဆိုင်းဘုတ်များလည်း တပ်ဆင်ထားကာ စစ်ဆေးမှုများ ပြုလုပ်ရမည်။

(စ) သာမန်နှင့်အရေးပေါ်အခြေအနေများတွင်လုပ်ငန်းများဆောင်ရွက်နိုင်ရန် မော်တော်ယာဉ်များအား သတ်မှတ်ကားရပ်နားသည့် နေရာများတွင်သာ ရပ်နားစေရမည်။

၁၂။ ညအချိန်အရေးပေါ်ကိစ္စများ အသုံးပြုရန်အတွက် အားကောင်းသော လက်နှိပ်ဓာတ်မီးများ၊ လက်ကိုင်အသံချဲ့စက်များ၊ရောင်ပြန်ပါသော တူညီဝတ်စုံများ၊မီးကာဝတ်စုံများ၊ အသက်ရှူကိရိယာများ ဝယ်ယူဖြည့်တင်း ထားရှိရန်နှင့် လမ်းပြဆိုင်းဘုတ်များကို ရောင်ပြန်ဆေးဖြင့် ရေးသားထားရမည်။

**<u>မီးငြိမ်းသတ်ရေးအတွက်ဆောင်ရွက်ထားရှိရမည့်အချက်များ</u>**

၁၃။ <u>အသေတပ်ဆင်ထားသည့်အမြှုပ်ထုတ်လုပ်သည့်စနစ်များ။</u> သိုလှောင်ကန်များတွင် အောက်ဖော်ပြပါ အမျိုးအစားများမှ တစ်နည်းနည်းဖြင့် တပ်ဆင်ထားရှိရမည်-

(က) Primary System(Main Fire-Fighting Source)

(၁) Fixed Topside






( ) Sub-Surface System







(၃) အမြှုပ်ဆေးရည်လိုအပ်ချက်ကို အောက်ပါပုံသေနည်းဖြင့် တွက်ချက်ထား ရှိရမည်-

$6.5\ l/m \times \pi/4d^2 \times 00.3$ or $0.06 \times 60$ min

(၄) အသေတပ်ဆင်ထားသည့် အမြှုပ်လုပ်စနစ်များတပ်ဆင်ထားသည့် သိုလှောင်ကန်များ အတွက် အနည်းဆုံး (၂)နာရီစာ အမြှုပ်ဆေးရည်များ ထားရှိရမည်။

(၅) တပ်ဆင်ရန်လိုအပ်သည့် Dischar ge point အရေအတွက်ကို အောက်ပါ အတိုင်း သိုလှောင်ကန်များ၏ အချင်းပေါ် မူတည်၍ဆောင်ရွက်ရမည်-

| သိုလှောင်ကန်အချင်း (မီတာ) | တပ်ဆင်ရန်လိုအပ်သည့် အရေအတွက် |
| --- | --- |
| ၂၄ မီတာ ထိ | ၁ |
| ၂၄ မီတာ မှ ၃၆ မီတာထိ | ၂ |
| ၃၆ မီတာ မှ ၄၂ မီတာထိ | ၃ |
| ၄၂ မီတာ မှ ၄၈ မီတာထိ | ၄ |
| ၄၈ မီတာ မှ ၅၄ မီတာထိ | ၅ |
| ၅၄ မီတာ မှ ၆၀ မီတာထိ | ၆ |

(၆) လိုအပ်သည့် ရေပမာဏထောက်ပံ့ပေးနိုင်ရန် ရေလှောင်ကန်ထားဖြင့် တည်ဆောက် ထားရှိရမည်။

ခ ) Supplementary Systems

(၁) သိုလှောင်ကန်ပတ်ဝန်းကျင်ရှိ ယိုစိမ့်လျှံကျနေသည့်ဆီများ မီးစွဲတောက်လောင်မှုများ ငြိမ်းသတ်နိုင်ရန် အနည်းဆုံး (500 L/min) အမြှုပ်ဆေးရည်ပက်ဖျန်းနိုင်သည့် ပိုက်လိုင်း နှစ်ခုထားရှိရမည်။

(၂) <u>အသေတပ်ဆင်ထားသော ရေမှုန်ရေမွှားပက်ဖျန်းသည့်စနစ်</u>

(ကက) သိုလှောင်ကန်များ၏ ဘေးဖက်တွင် အသေတပ်ဆင်ထားသော ရေမှုန်ရေမွှားပက်ဖျန်း နိုင်သည့် စနစ်တပ်ဆင်ထားရမည်။

(ခခ) ၎င်းစနစ်တွင် အဖွင့်အပိတ်ပြုလုပ်နိုင်သည့် (Valve)ကို 150 $m^3$ ရှိ သိုလှောင်ကန်များတွင် ၁၅ မီတာအကွာအဝေးမှတပ်ဆင်ထားရှိရန်နှင့် ပိုမိုကြီးမားသည့် သိုလှောင်ကန်များအတွက် ၃၀ မီတာ အကွာအဝေးတွင် တပ်ဆင်ထားရှိရမည်။

(ဂဂ) အနည်းဆုံး ဖိအားသည် 3.5 bar to 4.5 bar ရှိရမည်ဖြစ်ပြီး အနည်းဆုံး water application rate သည် 2L/min/$m^2$ ရှိရမည်။

(၃) <u>Mobile and Portable water monitors။</u> အနီးပတ်ဝန်းကျင်သို့ မီးကူးစက်ပြန့်ပွား ခြင်းမရှိစေရန်နှင့် အအေးပေးလုပ်ငန်းများဆောင်ရွက်နိုင်ရန် (Mobile and Portable water monitors) အနည်းဆုံး(၄)ခု ထားရှိ ရမည်ဖြစ်ပြီး (1500 L/min)ရရှိအောင်ဆောင်ရွက်ထားရမည်။

(၄) <u>Mobile and Portable Foam monitors။</u> မီးငြိမ်းသတ်ရေးလုပ်ငန်းများဆောင်ရွက်နိုင်ရန် (Mobile and Portable Foam monitors ) အနည်းဆုံး (၂)ခု ထားရှိရမည်ဖြစ်ပြီး(2000 L/ min)ရရှိအောင်ဆောင်ရွက်ထားရမည်။

<u>မီးသတ်ပန့်များ</u>

၁၄။ (က) မီးသတ်ပန့်များအားထိန်းချုပ်ခန်းမှဖြစ်စေ၊ ပန့်မှဖြစ်စေမောင်းနှင်ရပ်တန့်နိုင်ရမည်။

(ခ) အင်ဂျင်အသုံးပြုသည့်ပန့်များမှအပ Secondary Power Supply စီစဉ်ထား ရှိရမည်။

(ဂ) မည်သည့်စွမ်းအင်သုံးပန့်အမျိုးအစားကိုမဆို အနည်းဆုံး(၆)နာရီကြာ အဆက်မပြတ်အသုံးပြု နိုင်အောင် စီစဉ်ထားရှိရမည်။

(ဃ) မီးသတ်ပန့်များကိုအဝေးဆုံးသိုလှောင်ကန်သို့ဖိအား 10 bar ပေးပို့နိုင်ရန်နှင့် Fire main များ၏ Velocity ကို 3.5 m/s ပေးပို့နိုင်ရမည်။

(င) အနည်းဆုံးစက်စွမ်းအားအတူအညီဖြင့် ပန့်နှစ်လုံး(Standby & Reserved)အား ထားရှိရမည်ဖြစ်ပြီး နှစ်လုံးထက်ပိုပါက Reserved ပန့်များသည် လိုအပ်သည့် Flow rate နှင့် Pressure ကို အနည်းဆုံး (၅၀)ရာခိုင်နှုန်း ထောက်ပံ့ပေးနိုင်ရမည်။

<u>Fire Mains</u>

၁၅။ (က) မီးဘေးအန္တရာယ်ဖြစ်ပွားနိုင်မှုမြင့်မားသည့်သိုလှောင်ကန်များ၏အခြေခံမီးငြိမ်းသတ်ရေး ပစ္စည်းကိရိယာများတွင် Fire grid main or ring main များကိုသီးခြားထားရှိရမည်။ Fire mains များအား သင့်တော်သည့်ရေရရှိနိုင်သည့်နေရာများမှတစ်ဆင့် ပန့်များဖြင့် အသေတပ်ဆင် ဆက်သွယ်ထားရှိရမည်။

(ခ) မီးငြိမ်းသတ်ရေးလုပ်ငန်းများ စဉ်ဆက်မပြတ်ဆောင်ရွက်နိုင်စေရန်၊ စက်မှုဆိုင်ရာ အဆောက်အဦများတွင် တစ်နာရီခွဲ ရေနံချက် စက်ရုံများနှင့်အမြောက်အများ သိုလှောင်ထားရှိရာနေရာများတွင်(၆)နာရီကြာအသုံးပြုသည့်ရေပမာဏကို ထောက်ပံ့ပေးနိုင်ရမည်။

(ဂ) Fire Mainsကို ဘေးအန္တရာယ်ဖြစ်ပွားနိုင်မှု နည်းပါးသည့်ဧရိယာများ ( Battery Limit ၏ အပြင်ဘက်) မြေပေါ်တွင် သွယ်တန်းတပ်ဆင်ထားရှိရမည်။

(ဃ) Fire Mains ကိုဘေးအန္တရာယ်ဖြစ်ပွားနိုင်မှုမြင့်မားသည့်ဧရိယာများတွင် မီးသတ်ယာဉ် အစရှိသည့် မော်တော်ယာဉ် များအဆင်ပြေချောမွေ့စွာသွားရောက်နိုင်ရေး မြေအောက်တွင် မြှုပ်နှံသွယ်တန်း တပ်ဆင်ထားရှိရမည်။

<u>အမြှုပ်လုပ်မီးသတ်ယာဉ် (Foam Tenders)</u>

၁၆။ (က) စက်သုံးဆီသိုလှောင်ကန်များတွင် မီးလောင်မှုဖြစ်ပွားပါက မီးငြိမ်းသတ်နိုင်ရေးအတွက် အမြှုပ်လုပ် မီးသတ်ယာဉ် (Foam Tender )ဝယ်ယူထားရှိရမည်။

(ခ) အမြှုပ်လုပ်မီးသတ်ယာဉ် Foam generation capabilityသည်အနည်းဆုံး 3800 l/min ရှိရမည်ဖြစ်ပြီး Pumping capability သည် 4500 l/minရှိရမည်။

<u>အမြှုပ်ဆေးရည်သယ်ယာဉ် (Foam Carriers)</u>

၁၇။ အမြှုပ်လုပ်မီးသတ်ယာဉ် (Foam Tenders)ဖြင့် မီးငြိမ်းသတ်ရေးလုပ်ငန်းများ ဆောင်ရွက်ရာတွင် အမြှုပ်ဆေးရည်များ အဆက်မပြတ်ထောက်ပံ့နိုင်ရန် အမြှုပ်ဆေးရည်သယ်ယာဉ် (Foam Carriers) များ ဝယ်ယူထားရှိရမည်။

<u>မီးသတ်ရေငုတ်များ</u>

၁၈။ (က) မီးသတ်ရေငုတ်များအား မီးသတ်ရေပိုက်(၃၀)မီတာ(၂)လိပ်နှင့်ရေလုံး၊ ရေဖျန်းစနစ် နှစ်မျိုးစလုံးသုံးနိုင်သည့် မီးသတ်ပိုက်ခေါင်းတစ်ခုပါ မီးသတ်ရေပိုက်သေတ္တာနှင့်တွဲဘက်၍ အကွာအဝေး (၅၀)မီတာတိုင်းတွင် ထားရှိရမည်။

(ခ) မီးသတ်ရေငုတ်များတွင် ရေထွက်ခေါင်း ၂ ခု(သို့)၃ ခု(သို့)၄ခုပါခေါင်းများ တပ်ဆင်ထားရှိရမည်ဖြစ်ပြီး၊ ရေထွက် ခေါင်းများအားမီးသတ်ယာဉ်ချဉ်းကပ် လမ်းများဘက်သို့ ဦးတည်ထားရှိရမည်။

(ဂ) မီးသတ်ရေငုတ်နှင့်မီးသတ်ယာဉ်ချဉ်းကပ်လမ်းအကွာအဝေးသည်(၅)မီတာထက်မပိုရန်။

(ဃ) သိုလှောင်ကန်ဧရိယာအတွင်းမီးသတ်ရေငုတ်မထားရှိရန်၊

(င) မီးသတ်ရေငုတ်များအား(Steel)ဖြင့် ပြုလုပ်ထားရမည်ဖြစ်ပြီး အချင်း(၁၀၀-၁၅၀)မီလီမီတာ အံတွင်း ထားရှိရမည်ဖြစ်ပြီး၊သက်ဆိုင်ရာမီးသတ်ဌာနမှ မီးသတ်ယာဉ်များဖြင့်အလွယ်တကူ ချိတ်ဆက် အသုံးပြုနိုင်ရန် ညှိနှိုင်းဆောင်ရွက်ထားရမည်။

(စ) အလွယ်တကူ ပျက်စီးမှုမဖြစ်စေရန်(Pillar Type)အမျိုးအစား မီးသတ်ရေငုတ်များကို အသုံးပြုရန်၊

(ဆ) မီးသတ်ရေပက်ပိုက်ခေါင်း (Pressure)သည် (700 kN/$m^2$)ထက်မနည်းစေရန်၊

(ဇ) မီးသတ်ရေငုတ်များ၏ (Running Pressure)သည် (10 bar )ထက်မနည်းစေရန်၊

(ဈ) မီးသတ်ရေငုတ်ရှိ ရေထွက်ခေါင်းများ၏ (Flow Rate)မှာ (700L/min)ရှိရန်၊

**<u>မီးလှန့်အချက်ပေးစနစ်များ</u>**

၁၉။ (က) မီးလှန့်အချက်ပေးစနစ်အား (Auto/Manual)ဖြင့် အသုံးပြုနိုင်စေရန် ဆောင်ရွက်ထားရမည်။

(ခ) အခြားအချက်ပေးအသံများနှင့်မတူညီစေဘဲ အလွယ်တကူခွဲခြားသိရှိနိုင်သည့် မီးလှန့်အချက်ပေး အသံမျိုးဖြစ်ရမည်။

(ဂ) မီးလှန့်အချက်ပေးစနစ်အားလျှပ်စစ်ဓါတ်အားပြတ်တောက်သွားချိန်တွင်အသုံးပြုနိုင်ရန် အရေးပေါ် လျှပ်စစ်ဓါတ်အားပေး စနစ်ဖြင့် ချိတ်ဆက်တပ်ဆင်ထားရှိရမည်။

**<u>လက်ဖြင့်ကိုင်တွယ်အသုံးပြုနိုင်သောအပေါ့စားမီးငြိမ်းသတ်ရေးပစ္စည်းကိရိယာများ</u>**

၂၀။ (က) အမြှုပ်လုပ် မီးသတ်ဆေးဘူးများနှင့် ဓာတုဗေဒပေါင်ဒါမှုန့်ခြောက် မီးသတ်ဆေးဘူး (Dry Chemical Powder)များကို မီးသတ်ဦးစီးဌာန၏ ညွှန်ကြားချက်နှင့် အညီထားရှိရမည်။

(ခ) မီးသတ်ဆေးဘူးများအား ရာသီဥတုဒဏ်ကြောင့် ပျက်စီးမှုမဖြစ်စေရန် အကာကွယ်များဖြင့် စနစ်တကျထားရှိရမည်။

(ဂ) စက်သုံးဆီသိုလှောင်ကန်များအနီးတွင် မီးသတ်စင် (Fire Point)များ၊ မီးချိတ်၊ မီးကပ်၊ သံပုံး၊ သဲစည်များ၊ ဂေါ်ပြား နှင့်လှေကားများထားရှိရမည်။

**<u>အထွေထွေ</u>**

၂၁။ (က) တားမြစ်ဧရိယာအတွင်းမီးခြစ်များယူဆောင်လာခြင်းမပြုရန်၊

(ခ) ခွင့်ပြုနေရာများမှအပဆေးလိပ်သောက်ခြင်းကိုကန့်သတ်ထားရှိရန်၊

(ဂ) လူဝင်/လူထွက်စနစ်အားထိန်းချုပ်ထားရန်၊

(ဃ) ဝန်ထမ်းများအား မီးသတ်ပစ္စည်းကိရိယာများကိုင်တွယ်အသုံးပြုပုံနှင့် မီးငြိမ်းသတ်ရေးနည်းစနစ် များအား ကျွမ်းကျင်ပိုင်နိုင်စွာလေ့ကျင့်ထားရန်၊

(င) သိုလှောင်ကန်များတွင် မိုးကြိုးလွှဲတပ်ဆင်ထားရှိရန်၊

(စ) မီးသတ်ပစ္စည်းကိရိယာများအား သင့်တော်သည့်သတ်မှတ်အချိန်များတွင် စမ်းသပ်စစ်ဆေး ထိန်းသိမ်းမှုများ ပြုလုပ်ရန်၊

(ဆ) သိုလှောင်ကန်များနှင့်မီးသတ်ပစ္စည်းများ၏ Layout Plan ကို အရေးပေါ် အခြေအနေတွင် အသုံးပြုနိုင်ရန် အလွယ်တကူမြင်သာသောနေရာများ၌ ထားရှိရန်၊

(ဇ) သန္နေမီးသတ်တပ်ဖွဲ့ဝင်များ၊ ရေယာဉ်ဝန်ထမ်းများ၊ ဆိပ်ခံတံတားဝန်ထမ်းများနှင့် ဆိပ်ကမ်းအာဏာပိုင်မှ မီးသတ်သင်္ဘောများပူးပေါင်းဆောင်ရွက်သည့် မီးသတ်လေ့ကျင့်ခန်းများ (စက်မဲ့၊စက်ဖြင့်) ပူးပေါင်းလေ့ကျင့်ဆောင်ရွက်ရန်၊

(ဈ) တပ်ဆင်မည့် မီးဘေးလုံခြုံရေးဆိုင်ရာကိရိယာများအတွက် စံချိန်စံညွှန်းများအား မီးသတ်ဦးစီးဌာန ၏ သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရန်။

(ည) ဆိပ်ခံတံတားများအနီး၊ အနီးဆုံးရေယူနိုင်သည့်နေရာများတွင် အုတ်ရေလှောင်ကန်များ တည်ဆောက်ထားရန်၊ အလွယ်တကူ ရေရယူဖြည့်တင်းနိုင်ရေးအတွက် ရေစုပ်စက်များ၊ မီးသတ်ရေပိုက်လိပ်များထားရှိရန်နှင့် မီးသတ်ရေပိုက်လိပ်များကို ရေဖိအားခံနိုင်သော အမျိုးအစားများဖြင့် ဝယ်ယူ ဖြည့်တင်းထားရှိရန်။

(ဋ) ဆိပ်ခံတံတားများနှင့် ဆီအတင်အချတံတားများတွင် ရေရယူဖြည့်တင်းနိုင်ရေးအတွက် မီးသတ် ရေပိုက်ခေါင်း (Fire Hydrant)များထားရှိရန်။

(ဌ) ဆိပ်ခံတံတားများနှင့် စက်သုံးဆီသယ်ယူပို့ဆောင်ရေး ရေယာဉ်များတွင် မီးမလောင် စေရန်အတွက် မီးသတိမူရေးအချက်အလက်များ၊ မီးလောင်ပါက ကနဦးချက်ချင်းအရေးပေါ် မီးငြိမ်းသတ် နိုင်ရေးအစီအစဉ်များ၊ လိုအပ်သော မီးသတ်ဆေးဘူးများထားရှိရေးနှင့် မီးသတ်ဆေးဘူးများ အသုံးပြု၍ မီးငြိမ်းသတ်နည်းအပါအဝင် ရေယာဉ်ဝန်ထမ်းများ မီးဘေးကာကွယ်ရေး ဟောပြောပွဲများ၊ လက်တွေ့မီးငြိမ်းသတ်ရေး သရုပ်ပြပွဲများ၊ ဇာတ်တိုက်လေ့ကျင့်ခန်းများ ပြုလုပ်လေ့ကျင့် ထားရှိရန်နှင့် ဆီမီးလောင်မှုများတွင် ငြိမ်းသတ်နိုင်ရေးအတွက်အမြှုပ်လုပ်မီးသတ်ဆေးရည်များ ဝယ်ယူဖြည့်တင်းထားရှိရန်။

(ဍ) ဆိပ်ခံတံတားများအနီးနှင့် လမ်းဘေးတို့တွင်ရှိသော မြက်ခြောက်များ၊ ခြုံနွယ်ပိတ်ပေါင်းများ နှင့်အပင်ငယ်များကို ခုတ်ထွင်ရှင်းလင်းထားရှိရန်။

(ပ) စက်သုံးဆီအတင်/အချတံတားများအနီးမသက်ဆိုင်သောယာဉ်၊လူ၊ ရေယာဉ်များ မကပ် နိုင်အောင် တားမြစ်နယ်မြေသတ်မှတ်၍ လုံခြုံရေးစီမံဆောင်ရွက်ထားရန်။

(ဏ) မီးလောင်မှုသတင်းကို အချိန်မီလျင်မြန်တိကျမှန်ကန်ရှင်းလင်းစွာဖြင့် ရရှိဆက်သွယ် နိုင်ရေးနှင့် အခြေအနေအချိန်အခါအလိုက် သတင်းများထပ်မံ ရရှိနိုင်ရေးအတွက် သတင်းပေးပို့မှုစနစ်ဆောင်ရွက် ထားရှိရန်၊

(တ) ရာသီဥတု၊ ပတ်ဝန်းကျင်အခြေအနေ၊ ခရမ်းလွန်ရောင်ခြည်၊ အငွေ့များအစရှိသည် များကြောင့် အလွယ်တကူ တိုက်စားနိုင်သော(သို့) အရည်အသွေးကျဆင်းစေသော မည်သည့်မီးငြိမ်းသတ်ရေး ပစ္စည်းကိရိယာမဆို အကာအရံများ (သို့) ကာကွယ်ရေး အစီအမံများဖြင့်ထားရှိရမည်ဖြစ်ပြီး ထားရှိသည့်ပစ္စည်းကိရိယာများ၏ အမျိုးအစားများကို အပြင်ဘက်တွင် ဖော်ပြထားရန်၊

(ထ) မီးငြိမ်းသတ်ရေး ပစ္စည်းကိရိယာများအားလုံးအား ခွဲခြားသိရှိနိုင်စေရန် အနိမ့်ဆုံး အနီရောင် ဆေးသုတ်ထားရမည်။ မီးသတ်သမားများ ရှင်းလင်းစွာ မြင်နိုင်ရန်နှင့် အမျိုးအစားခွဲခြားနိုင်စေရန်သိုလှောင်ကန်များအားလုံး၏ အချက်အလက်ကိန်းဂဏန်း များကို အလွယ်တကူခွဲခြားသိနိုင်သည့်အရောင်ဖြင့် သိုလှောင်ကန်နံရံတွင် ဆေးသုတ် ဖော်ပြ ထားရှိရန်၊